

# ရှာရှာဖွေဖွေ အာသိဝေ

## ပြုပြင်ဖွယ်ရာ ခံယူချက် (၁၀၀)




စိစစ်တည်းဖြတ်သူ – ဟာဇရယ် မောင်ဝ်လာနာ အဗ်ဒွလ်ဟာဒီ ဆွာဟိဗ်

◆ ရှာဖွေကောက်နုတ်တင်ပြသူ ◆

မောင်ဝ်လာနာ မုဟမ္မဒ် (ခ) မင်းထက်အောင် (အဆ်အဒီ)

# ပန်ကြားလွှာ



## الحمد لله رب العالمين

အထွေထွေသော ချီးမွမ်းခြင်းအပေါင်းတို့သည် နှစ်လောကနှစ်ဌာနကို ဖန်ဆင်းမွေးမြူထိန်းသိမ်းစောင့်ရှောက်တော်မူသော အလ္လာဟ်အရှင်မြတ် အတွက်သာဖြစ်သည်။ (အာမီးန်)

သာသနာ့ဝင်သားချင်းများသို့ ချစ်ခင်နွေးထွေးစွာဖြင့်...

အစ္စလာမ်သာသနာသည် အထူးသိမ်မွေ့လှ၏။ လွယ်ကူမှုများကိုသာ လမ်းညွှန်ပြဌာန်းထားသည်။ ခက်ခဲမှုများကို လုံး၀ မလိုလား၊ မနှစ်မြို့၊ မပြဌာန်းထားပေ။ ဖန်ဆင်းရှင်၏ လိုလား နှစ်မြို့ ပြဌာန်းချက်များကိုသာ လိုက်နာကျင့်သုံးဆောက်တည် ရသည်။ ထိုအမြော်အမြင်ကြီးမားလှစွာ ပြဌာန်းထားသည်တို့ကို လိုက်နာကျင့်သုံး၍ တန်ဖိုးရှိလှသော ဘ၀သက်တမ်းကို လှပတင့်တယ်ဝင့်ထည်နိုင်ကြပါစေ။ (အာမီးန်)

အပြန်ခရီးစဉ်ရှိ စခန်းတိုင်းတွင် အလိုတော်နှင့် အောင်မြင်မှုများ အသီးသီးရယူစံစားပီတိဝေဖြာနိုင်ကြပါစေ။ (အာမီးန်)

မွတ်စလင်မ်တို့၏ ပြုပြင်ရန် အထူးလိုအပ်နေသည့် ခံယူချက်ပေါင်း (၁၀၀)စာအုပ်စာတမ်းကို ကျွန်ုပ်အနေဖြင့် "ရှာရှာဖွေဖွေ အသိဝေ"ဟု အမည်တွင်စေချင်ပါသည်။ ပြုစုသူ၊ စာရှုသူ၊ ကူညီသူများအား အလ္လာဟ်အရှင်မြတ် ကျေနပ်လက်ခံတော်မူပါစေ။ (အာမီးန်)

أحقر الورى مولوى عبدالهادي (ٹهون لين) مظاهري،نقشبندي.مانڈلے۔

نَحْمَدُهٗ وَنُصَلِّى عَلٰى رَسُوْلِهِ الْكَرِيْم

# စကားဦး



အစ္စလာမ်သာသနာ၏ အဓိက အမိန့်ပညတ်ချက်(၂)ရပ်ရှိပေ၏။ ယင်းတို့မှာ... (1)احکام اصلیہ (ယုံကြည်ချက်ပိုင်းဆိုင်ရာ) နှင့်(2)احکام فرعیہ (ကျင့်ဆောင်မှုပိုင်းဆိုင်ရာ)တို့ ဖြစ်သည်။

ဤစာအုပ်တွင် احکام اصلیہ (ယုံကြည်ချက်ပိုင်းဆိုင်ရာ) များကိုသာ ဆွေးနွေးထားသောကြောင့် ပဏာမအနေနှင့် အနည်းငယ်ရှင်းလင်းပါအံ့။

အီမာန်သက်ဝင်ယုံကြည်သူတို့၏ အအ်မာလ်များ (နမာဇ်၊ ရိုဇာ၊ ဟဂ်ျ စသည်တို့) မှန်ကန်ရန်နှင့် အလ္လာဟ်အရှင်မြတ် လက်ခံသဘောတူရန်မှာ အကီဒဟ်ယုံကြည်ချက် မှန်ကန်ဖို့အရေးကြီးလှသည်။ တစ်နည်း အကီဒဟ်မှန်မှ အစ္စလာမ်မှန်မည်။

ပမာဆိုရသော် احکام اصلیہ သစ်ပင်တစ်ပင်၏ ပင်စည်ဖြစ်ပြီး احکام فرعیہ သည် ထိုအပင်၏ အကိုင်းအလက်များ ဖြစ်ပေသည်။ ပင်စည်ရှင်သန်မှသာ အကိုင်းအလက်များ ရှင်သန်မည် ဖြစ်သကဲ့သို့၊ ပင်စည်အားကောင်းမှသာ အကိုင်းအလက်များ ဖွံ့ဖြိုးတိုးတက်လာမည်မှာ အသေအချာပင်ဖြစ်သည်။

သို့ရှိရာ အကီဒဟ်ယုံကြည်ချက်များ မှန်ကန်နေရန်မှာ အလွန်အရေးကြီးသော ဖရဇ်တာဝန်တစ်ရပ်ဖြစ်နေတော့သည်။ သာသနာနှင့်မသက်ဆိုင်သည်များကို သာသနာဘက်နွှယ်ပြီး အယူအဆအမှားများ ထားမိနေကြသည်ကို မွတ်စလင်မ်လူထုကြားတွင် ကြကြွဲစွာ တွေ့မြင်နေရသည်။

ထိုစဉ် **ဟကီမုလ်အုမ္မသ်(ဟဇရသ် မောင်လာနာ အရှ်ရဖ်အလီ ထာနဝီ ရဟ္ေ)**၏ **အဂ်လာသုလ်အ၀ါမ်** ဆိုသောကျမ်းငယ်ကိုတွေ့မိပြီး ယနေ့ မျက်မှောက်ကာလ၌ အဓိကလိုအပ်နေသော အချက်များကိုသာ ကောက်နုတ် ပြန်ဆို၍ အချို့သောအချက်များကို ဖသ်ဝါကျမ်းအချို့နှင့် ဖသ်ဝါဌာနအချို့မှ ကောက်နုတ်ပြန်ဆို ရေးသားလိုက်ပါသည်။

ဤစာအုပ်ငယ်အား အလ္လာဟ်အရှင်မြတ်သခင် အပြည့်အဝလက်ခံ တော်မူပါစေ။ အွမ္မသ်အဖို့ အထူးအကျိုးဖြစ်ထွန်းပါစေ။ ထို့ပြင် ကျွန်ုပ်အား လည်း သာသနာရေးရာဝန်တာများကို ဆထက်ထမ်းပိုး ပိုတိုးကာ ဆောင်ရွက် နိုင်စွမ်းချီးမြှင့်တော်မူပါစေ။ (အာမီးန်)

## ကျေးဇူးတင်လွှာ

ဦးစွာပထမ အလ္လာဟ်အရှင်မြတ်အား အထူးကျေးဇူးတင်အပ်ပါသည်။ ထို့နောက် ဤစာအုပ်လေးကို စာရှုသူရှေ့မှောက်ရောက်ရှိစေရန်အတွက် မအားလပ်သည့်ကြားမှ အချိန်ပေးပြီး အွမ္မသ်အရေး သောကပိုက်ကာ စိစစ် တည်းဖြတ်ပေးပါသော ဟဇရသ်မောင်ဝ်လာနာ အဗ်ဒွလ်ဟာဒီ ဆွာဟစ်ဗ် (ဒါမသ်ဗရကာႉသုဟွမ်)အား ကျေးဇူးတင်ရှိပါသည်။ စာအုပ်ကို တင့်တယ် သည်ထက် တင့်တယ်အောင် ထပ်ဆင့် တည်းဖြတ်ပေးပါသော အလ်ဟာဂျ် မောင်ဝ်လာနာ ဟာဖိဇ် ကာရီ ကရီမွလ္လာဟ် ဟစန် ဆိုလိုင်မာနီ ဆွာဟစ်ဗ် အားလည်း အထူးကျေးဇူးတင်ရှိပါသည်။

ထို့နောက် မညည်းမညူ အကူအညီပေးခဲ့ကြသော ကျွန်ုပ် ညီငယ် မောင်ဝိလာနာ ဟာဖိဇ် အဗ္ဗဒွလ္လာဟ် (မိုနီရီ)နှင့်တကွ အဘက်ဘက်မှ အကူအညီပေးကြသော တစ်ဦးချင်းစီတိုင်းအား ကျေးဇူးအထူးတင်ရှိပါသည်။

ကျွန်ုပ်၏မိဘနှစ်ပါး၊ ငယ်စဉ်တောင်ကျေးကလေးဘဝမှ ယနေ့ထက်တိုင် ပညာရည်နို့ချိုတိုက်ကျွေးခဲ့ကြသော ဆရာများ၊ နောက်နောင်တိုက်ကျွေးနေမည့် ဆရာသခင်များနှင့် ဤစာအုပ်ဖြစ်မြောက်ရေးအတွက် ဝိုင်းဝန်းကူညီပေးခဲ့ကြသော ပုဂ္ဂိုလ်များအားလုံးကို ကိုယ်နှုတ်နှလုံးသုံးပါးလုံး သာယာအေးချမ်းစေပြီး နှစ်ဘဝနှစ်ဌာနလုံး၌ အလ္လာဟ်အရှင် အထူးလက်ခံနှစ်မြို့တော်မူပါစေကြောင်းဆုမွန်ပြုလျက် ........

မောင်ဝိလာနာမုဟမ္မဒ်(ခ)မင်းထက်အောင် (အဆ်အဒီ)

မင်္ဂလာဒုံမြို့နယ်၊ရန်ကုန်မြို့။

(ခေတ္တ မင်းဘူး)

၂၁/၅/၂၀၂၁သောကြာနေ့။




သူတစ်မျိုး ကိုယ်တစ်ဖုံ

အစုံစုံသော ခံယူချက်များ

ကိန်းဝပ်ကာသွားလို့ အွမ္မသ်အဖို့

ရတတ်မအေး ဖြစ်ရသည်မှာ

ကေန်ပါ ကေန်ပါ။

ကိုယ်တိုင်လည်းပြင် သူလည်းကြဉ်

ပြုပြင်ကြစို့ အွမ္မသ်တို့

မှတ်ယူရန်မှာ ခံယူချက် (၁၀၀)

လက်ခံတော်မူပါ

အို-အလ္လာဟ်…

အို-အလ္လာဟ်…

# မာတိကာ

# မွတ်စ်လင်မ်တို့၏ ပြုပြင်ရန် အထူးလိုအပ်နေသည့် ခံယူချက်ပေါင်း(၁၀၀)

## အကီဒဟ်ယုံကြည်ချက်များနှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၁) လူအချို့သည် ညအချိန်၌ သစ်ပင်များအား မလှုပ်ရ၊ ၎င်းတို့သည် ညအချိန်၌ အနားယူကြသည်ဟုပြောလေ့ရှိကြသည်။ ဤသည်မှာ သာသနာတော်၌ လုံး၀ အခြေအမြစ်မရှိပေ။

မှတ်ချက်။ ။ သစ်ပင်များသည် ညအချိန်တွင် ပမာဏ အနည်းငယ် ကာဗွန်ဒိုင်အောက်ဆိုဒ် ထုတ်လွှတ်ပေးသည်ကို သိထားပါသည်။ သို့သော် အထက်ပါယုံကြည်မှုအရ အခြေအမြစ်မရှိကြောင်း ဖော်ပြခြင်းသာ ဖြစ်သည်။ (ဘာသာပြန်သူ)

(၂) ဆဲဆိုခြင်းဖြင့် ရက်ပေါင်းလေးဆယ် အီမာန်ထွက်သွား၍ ဤရက်များ အတွင်းသေဆုံးပါက ကာဖိရ်အဖြစ်နှင့် သေသည်ဟူ၍ လူအချို့ခံယူထားကြသည်။ ဤသည်မှာ လုံး၀မှားယွင်းသော ကိစ္စတစ်ရပ်ပင်။

မှတ်ချက်။ ။ ဆဲဆိုခြင်းမှာ ဂိုနဟ်ဖြစ်ကြောင်း သံသယဖြစ်ဖွယ်မရှိပေ။

(၃) သေဆုံးသူများ၏ ဝိညာဉ်များ လောကသို့ ပြန်လာသည်ဟု မှတ်ယူခြင်းသည် မှားယွင်းသောကိစ္စရပ် ဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော်

သူမွှန်သူမြတ်တို့သည် ပြန်လာလိုစိတ်မရှိကြ။ သူယုတ်မာတို့သည်လည်း ပြန်လာခွင့်ရမည်မဟုတ်။

(၄) လူအချို့သည် ကတ်ကြေးအား အကြောင်းမဲ့ ညှပ်ပြီး(တီးပြီး) မကစား ရ။ ရန်ဖြစ်တတ်သည်ဟု ပြောလေ့ရှိကြသည်။ ဤသည်မှာ လုံးဝအခြေအမြစ် မရှိသော ကိစ္စရပ်ဖြစ်ပေသည်။

(၅) လူအချို့သည် ဝလီသူတော်စင်တို့အား ဖြည့်ဆည်းပေးနိုင်သူ၊ အခက် အခဲများ ဖြေရှင်းပေးနိုင်သူဟု မှတ်ယူကာ ဖာသေဟာဖတ်ခြင်း အစရှိသည် တို့ကို ပြုလုပ်ကြ၏။ **ဤသို့ပြုလုပ်ခြင်းမှ ကျွန်ုပ်တို့အား ထိန်းသိမ်းတော်မူပါ စေ။** အမှန်စင်စစ် အလ္လာဟ်အရှင်မြတ် တစ်ပါးတည်းက အခက်အခဲများကို ဖြေရှင်းပေးနိုင်သည်။ လိုအပ်ချက်များကို ဖြည့်ဆည်းပေးနိုင်သည်။ ထို့ကြောင့် အလ္လာဟ်အရှင့်ထံတော်မှသာ တောင်းဆိုရပေမည်။

(၆) လူအချို့သည် ညကြီးညမြတ်များ၌ သေဆုံးသူများသည် မိမိတို့အိမ်သို့ ပြန်လာလေ့ရှိပြီး သူတို့၏ အိမ်သူအိမ်သားများက သူတို့အတွက် မည်သည့် ကုသိုလ် ပြုလုပ်ကြသည်ကို လာရောက်ကြည့်ရှုကြသည်ဟု မှတ်ယူကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသောကိစ္စရပ် ဖြစ်ပေသည်။

(၇) လူအချို့သည် ညကြီးညမြတ်များ၌ သေဆုံးသူတို့အတွက် အီစွာလေ့ စဝါးဗ်မပို့ပါက သေဆုံးသူများ အဇားဗ်အပြစ်ဒဏ်ခံရသည်ဟူ၍ မှတ်ယူကြ လေသည်။ ဤသည်မှာ လုံးဝမှားယွင်းသောကိစ္စရပ် ဖြစ်ပေသည်။
(اصلاح الرسوم ကျမ်း)

(၈) ရှဗ်ဗေ့ဗရာအသ်ညဥ်(သက်မဲ့)အရာအားလုံးသည် စဂျ်ဒဟ်ဦးချလျက်ရှိသည်ဟု မှတ်ယူခြင်းမှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စရပ်ဖြစ်ပေသည်။ (اصلاح الرسوم ကျမ်း)

(၉) အချို့သူများသည် လွယ်လွယ်ကူကူ သာမန်ကာလျှံကာ ကျွန်ုပ်တို့သည် ဒွန်ယာဒါရ်(လောကသား၊ လူ့လောက၏ရမ္မက်များဖြင့် ပြည့်နှက်နေသူ) စသည်ဖြင့် မိမိတို့ကိုယ်ကို ပြောလေ့ရှိကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ အဘယ်ကြောင့်ဆိုသော် ဒွန်ယာဒါရ်ဆိုသည်မှာ ကာဖိရ်များအတွက်သာဖြစ်သည်။ မွတ်စ်လင်မ်ဟူသည်မှာ ဒီးန်ဒါရ်သာဖြစ်၏။(اشرف العلوم ကျမ်း)

(၁၀) လူအများစုသည် သာသနာ့ကိစ္စများအား မထီမဲ့မြင်(ရပါတယ်၊ ထားလိုက်ပါဟု) ပေါ့ပေါ့တန်တန် မှတ်ယူကြလေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ အဘယ်ကြောင့်ဆိုသော် သာသနာ၏ ကိစ္စများအား မထီမဲ့မြင်ပြုခြင်း၊ ပေါ့ပေါ့တန်တန် မှတ်ယူခြင်းမှာ မကောင်းမှု၏ မြစ်ဖျားခံရာ၊ ပျက်စီးရာ ပျက်စီးကြောင်းတို့၏ အရင်းအမြစ်ဖြစ်ပေသည်။ "ဒီလောက်ကတော့ ဘာမှမဖြစ်ပါဘူး"ဟူသော အတွေးများကြောင့် ဂိုနာဟ်ကျူးလွန်ရန် အတင့်ရဲလာကြပေသည်။ (اشرف العلوم ကျမ်း)

(၁၁) များစွာသောသူတို့သည် ဘယ်သူကတော့ ငါ့စကား နားမထောင်လို့၊ ငါပြောသလို မလုပ်လို့၊ ငါနဲ့မတည့်လို့ ဘယ်လိုဒုက္ခရောက်သွားပြီ အစရှိသဖြင့် စကားများအား လက်လွတ်စပယ် ပြောလေ့ရှိကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။

**အထူးသတိပြုရန်။ ။အထက်ပါကဲ့သို့သောစကားများအား နဗီတမန်တော်များမှလွဲ၍ မည်သူမျှပြောဆိုခွင့်မရှိပေ။ (ملفوظات ကျမ်း)**

(၁၂) လူအများကြားတွင် မြေကြီးပေါ်၌ အကြောင်းမဲ့ ရေပိုက် ဖွင့်ထားခြင်း၊ ရေလောင်းခြင်းဖြင့် ကေယာမသ်နေ့၌ မြေကြီးက အစားယူမည်ဟု ကျော်ကြား၏။ ဤသည်မှာ လုံးဝအခြေအမြစ် မရှိသော ကိစ္စရပ်ဖြစ်ပေသည်။
**မှတ်ချက်။ ။ ရေဖြုန်းတီးခြင်းကြောင့် ဂိုနာဟ်အပြစ်ထိုက်သည်မှာ သက်သက်ဖြစ်သည်။**

## သွဟာရသ် သန့်ရှင်းစင်ကြယ်မှုနှင့် နိဂျာစသ် အညစ်အကြေးတို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၁၃) များစွာသော မွတ်စ်လင်မ်တို့သည် အိမ်သာနှင့်ရေချိုးခန်း၌ စကားပြောခြင်း လုံးဝမပိုင်ဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စရပ်ဖြစ်ပေသည်။ **သို့သော်လည်း မလိုအပ်ဘဲ စကားပြောခြင်းမှ ရှောင်ကြဉ်သင့်ပေသည်။**

(၁၄) အချို့သူများသည် မသန့်သောအဝတ်အစားအား လျှော်ဖွတ်၍ ခြောက်သွေ့မှသာ သန့်ပြန့်သွားသည်။ စိုနေပါက နမားဇ်ဖတ်၍ မပိုင်ဟုမှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။ (ဤမဆ်အလဟ်ပညတ်ချက်၏ အလိုသဘောမှာ လူတစ်ယောက်သည် မသန့်သောအဝတ်အား လျှော်ထားလေသည်။ မခြောက်သေးခင်၌ပင်ဝတ်၍ နမာဇ်ဝတ်ပြုလိုက်ပါကလည်း နမာဇ်ပိုင်သွားမည်။ ဆိုလိုသည်မှာ မသန့်သောအဝတ်သည် လျှော်ဖွတ်ပြီးသည်နှင့် သန့်ပြန့်သွားပြီဖြစ်သည်။ (အဝတ်ခြောက်သွေ့ရန် အရေးမကြီးပေ။)

(၁၅) အမျိုးမွတ်စ်လင်မ်တို့သည် ခွေး၏ခန္ဓာကိုယ်နှင့် လူသား၏ အစိတ်အပိုင်းတစ်ခုခုဖြစ်စေ၊ အိုးခွက်ပန်းကန်ကဲ့သို့ အခြားအရာဝတ္ထုများနှင့်ဖြစ်စေ ထိသွားပါက မသန့်ဟုမှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝ မှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။ ကေန်စင်စစ် ခွေး၏အာရည်သာလျှင် မသန့်ဖြစ်၏။ ခွေး၏ကိုယ်ခန္ဓာ၌ ပကတိအညစ်အကြေးတစ်စုံတစ်ရာ ပေကျံမနေက မသန့်မဖြစ်ပေ။

## ဝုဇူ၊ သယမ်မွမ်တို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၁၆) အချို့သူတို့သည် တစ်ဦးတစ်ယောက်၏ အရှက်အင်္ဂါအား ကြည့်မိသွားပါက ဝုဇူပျက်သွားသည်ဟု မှတ်ယူထားကြ၏။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။ အမှန်မှာ တမင်ကြည့်သည် ဖြစ်စေ၊ မရည်ရွယ်ဘဲဖြစ်စေ ကြည့်မိသွားပါက ကြည့်သောသူနှင့် အကြည့်ခံရသူ နှစ်ဦးစလုံး၏ ဝုဇူမပျက်ပေ၊ အချို့သူတို့သည် ဝုဇူပြုပြီးနောက် ဒူးပေါ်သွားမည် သို့မဟုတ် အရှက်အင်္ဂါအစိတ်အပိုင်း တစ်ခုခုပေါ်သွားမည် ဆိုပါက ဝုဇူပျက်သွားသည်ဟု မှတ်ယူထားကြ၏။ ဤသည် မှားယွင်း၏။ စင်စစ် အရှက်အင်္ဂါပေါ်ခြင်းဖြင့် ဝုဇူမပျက်ပေ။

**မှတ်ချက်။ ။ အရှက်အင်္ဂါအား တမင်တကာ ကြည့်ခြင်း၊ ပြခြင်း သည် ကြီးလေးသော ဂုနာဟ်ဖြစ်ပေသည်။**

(၁၇) ဝုဇူပြုပြီးနောက် ဆဲဆိုခြင်းဖြင့် ဝုဇူပျက်မည်မဟုတ်ဘဲ ဆဲဆိုခြင်းကြောင့်သာ အပြစ်ထိုက်မည်ဖြစ်သည်။

(၁၈) အချို့သူတို့သည် ဂျနာဇာဟ်နမာဇ်ဖတ်ထားသောဝုဇူဖြင့် ဖရဇ်နမားဇ် ၅ကြိမ် ဖတ်မရဟု မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။

(၁၉) အချို့သူတို့သည် ဖုန်မှုန့် (မြေကြီးမှုန့်) အနည်းငယ်ပေထားသော ခေါင်းအုံး၊ အဝတ် အစရှိသည်တို့ဖြင့် သယမ်မွမ် ပြုလုပ်ခြင်းအား ပိုင်သည်ဟု မှတ်ယူကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။

(၂၀) များစွာသောသူတို့သည် မတတ်သာရွှေ့သာ သယမ်မွမ် ပြုလုပ်လိုက်ရသည်။ သယမ်မွမ်အား ပြည့်ဝသောသန့်ပြန့်မှုဟု မမှတ်ယူပေ။ ဤသည်မှာ ကြီးလေးသော ဂိုနာဟ်အပြစ်ထိုက်ပေသည်။ **(သယမ်မွမ်သည် ပြည့်ဝသော သန့်ပြန့်မှုဖြစ်ပေသည်။)** အဘယ်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်နှင့် တမန်တော်မြတ်ﷺက ခွင့်ပြုချက်ပေးထားပေသည်။
( معارف القرآن بحوالہ مسائل نماز)

## မီးယပ်သွေးနှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၂၁) များစွာသောသူတို့သည် မီးနေသည် ချက်ပြုတ်ထားသော အစားအစာ၊ ခူးခပ်ကျွေးသော ထမင်း၊ စားစရာ အစရှိသည်တို့အား စားမပိုင်ဟု မှတ်ယူကြလေသည်။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စဖြစ်ပေသည်။ ဓမ္မတာရာသီသွေးနှင့် မီးယပ်သွေးဆင်းနေသော အမျိုးသမီး၏လက်သည် မသန့်မဖြစ်ပေ။

(၂၂) မြောက်မြားစွာသော အမျိုးသမီးများသည် မီးနေသည်အား ရက် ၄၀ မပြည့်မချင်း မီးယပ်သွေးရပ်ဆိုင်းသွားပါကလည်း နမာဇ်ဖတ်၍မပိုင်ဟု မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝ မှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။ မီးယပ်သွေး၏ အနည်းဆုံးရက်၊ အချိန် သတ်မှတ်ချက်မရှိပေ။

**နာရီပိုင်းမျှသာ မီးယပ်သွေးဆင်း၍ ရပ်သွားသည်ဖြစ်စေ၊ ရက်အနည်းငယ်မျှသာ မီးယပ်သွေးဆင်း၍ ရပ်သွားသည်ဖြစ်စေ ချက်ချင်းဂိုစူလ်ရေချိုး၍ နမာဇ် ဝတ်ပြုရပေမည်။ မီးယပ်သွေး၏ အများဆုံးရက်မှာ ရက်ပေါင်း ၄၀ ဖြစ်သည်။ ရက်ပေါင်း ၄၀ ပြည့်၍ မီးယပ်သွေး မရပ်ပါကလည်း သန့်ပြည့်သည်ဟုပင် မှတ်ယူ၍ ဂိုစူလ်ပြုကာ နမာဇ်စတင် ဝတ်ပြုရမည်။**

## အဇာန်၊ နမာဇ်နှင့် ခွသ္ဗဟ်တို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၂၃) လူအများသည် အဇာန်ဆိုနေသောသူ၊ ဒိုအာတောင်းနေသူ၏ ရှေ့မှ ဖြတ်သွားခြင်းအား မပိုင်ဟု မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝ မှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။

(၂၄) အချို့သူတို့သည် အမှောင်အတိ၌ နမာဇ်ဖတ်ခြင်းအား မပိုင်ဟု မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝ အခြေအမြစ်မရှိသော ကိစ္စရပ် ဖြစ်ပေသည်။ သို့သော် ကစ်ဗ်လာဟ်မှားလောက်နိုင်သည်အထိ အမှောင်၌ နမာဇ်မဖတ်သင့်ပေ။

(၂၅) များစွာသော မွတ်စ်လင်မ်တို့သည် ခန္ဓာကိုယ်သန့်ပြန့်ရန်ပင် ခက်ခဲသော ရောဂါတစ်စုံတစ်ရာ (အနာပေါက်ခြင်း၊ ဒဏ်ရာရထား၍

သွေးမတိတ်တမ်းထွက်နေခြင်း အစရှိသော) ဖြစ်ပေါ်ပါက နမာဇ်ဖတ်၍ မပိုင်ဟု ထင်မှတ်၍ လုံးဝမဖတ်ဘဲ နေလိုက်ကြပေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ ကေန်စင်စစ် မိမိ၏ဖြစ်နေသောရောဂါနှင့် အခြေအနေကို အာလင်မ်သာသနာ့ပညာရှင်များအား တင်ပြ၍ မည်သို့မည်ပုံ နမာဇ်ဝတ်ပြုရမည်ကို မေးမြန်းရပေမည်။ အဘယ်ကြောင့်ဆိုသော် နမာဇ်သည် အလွန်အရေးကြီးသော ဖရဇ်တာဝန်တစ်ရပ်ဖြစ်သောကြောင့်ပင်။

(၂၆) များစွာသောသူတို့သည် ခွဿဗဟ်၌ တမန်တော်မြတ်ﷺ၏ အမည်နာမတော်အားကြားပါက ဒရူးဒ် (ဆွလ္လလ္လာဟို့ အလိုင်းဟိ ဝစ္စလာမ်)ဟု အသံကျယ်လောင်စွာဖြင့် ဖတ်လေ့ရှိကြသည်။ ဤသည်မှာ ဆင်ခြင်စရာကိစ္စရပ်ဖြစ်ပေသည်။ စိတ်ထဲမှ ဒရူးဒ်ဖတ်ပါက မည်သို့မှ ပြဿနာမရှိ၊ လုံလောက်ပေသည်။

(၂၇) အချို့သောသူတို့သည် အီးဒ်နမာဇ်ပြီးနောက် ခွဿဗဟ်နားမထောင်ဘဲ ချက်ချင်းထပြန်သွားလေ့ရှိကြသည်။ ဤသည်မှာ လုံးဝမကောင်းသော၊ မှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။ ခွဿဗဟ်နားထောင်ခြင်းသည် အလွန်အရေးကြီးသော ကိစ္စရပ်ဖြစ်သည်။

## သအ်ဝီးဇ် အဆောင်လက်ဖွဲ့နှင့် ကျင့်စဉ်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၂၈) လူအများစုသည် သအ်ဝီးဇ်(အဆောင်၊လက်ဖွဲ့များ) ပြုလုပ်ခြင်းအားဖြင့် မိမိရည်ရွယ်သော (ဘေးဘယများ ကင်းဝေးစေရန်၊ စီးပွားရေးတိုးတက်

စေရန် အစရှိသော)ကိစ္စများ မုချ အောင်မြင်ရမည်ဟု မှတ်ယူထားကြသည်။ အကယ်၍ ဆန္ဒမပြည့်ဝခဲ့ပါက အရာတစ်ခုခုလိုအပ်သွား၍ အဆောင်က အကျိုးမဖြစ်ဟူ၍ မှတ်ယူထားကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စ၊ ရှရိက်အပြစ်ထိုက်သော ကိစ္စရပ်ဖြစ်ပေသည်။ အဆိုး၊ အကောင်း သတ်မှတ်စီမံသူမှာ အလ္လာဟ်အရှင်သာလျှင်ဖြစ်သည်။ ထို့အတူ ရောဂါဘေးဘယများ၊ အခက်အခဲများအား ဖယ်ရှားပေးနိုင်သူမှာလည်း အလ္လာဟ်အရှင် တစ်ပါးတည်းသာ။ (كمالات ကျမ်း)

(၂၉) သအ်ဝီးဇ်(အဆောင်၊လက်ဖွဲ့)အား ပြုလုပ်သောရည်ရွယ်ချက်အောင်မြင်ပါက ပြုလုပ်ပေးသူအား အလွန်မွန်မြတ်သောသူ (အစရ်ရှိသူ)အစရှိသဖြင့် မှတ်ယူကြလေသည်။ ဤသည်မှာ အထူးဆင်ခြင်စရာ ကိစ္စရပ်ဖြစ်ပေသည်။
**မှတ်ချက်။ ။ သအ်ဝီးဇ်၏ အစရ်(ထိရောက်) ရှိခြင်း၊ အောင်မြင်ခြင်းသည် အလ္လာဟ့်အလိုတော်ကြောင့်သာ ဖြစ်ပေသည်။ (انفاس عيسى ကျမ်း)**

(၃၀) များသောအားဖြင့် မန်းမှုတ်သောဆရာတို့သည် နေ့ရက်များ၏ စည်းကမ်းချက်များ(အချို့က အချိန်၊ နေ့၊ လ အစရှိသော စည်းကမ်းချက်များ ထည့်ကြလေသည်။) ဤသည်မှာ လုံးဝမှားယွင်းပေသည်။ ဥပမာ– စနေနေ့ ဒီအမလ်လုပ်မှ ဒီကိစ္စ အောင်မြင်မယ် အစရှိသော စည်းကမ်းချက်များသည် အပိုသာဖြစ်သည်။ ကျွန်ုပ်(ဟကီမွလ်အွမ္မသ်–မောင်လာနာ အရှ်ရဖ်အလီ ထာနဝီ) ဤစည်းကမ်းချက်များမပါဘဲ အမလ်များကျင့်ကြံခဲ့ရာ အစရ် ထိရောက်ခြင်း၌ မည်သို့မျှ အဟာန့်အတားမဖြစ်စေခဲ့ပါ။ အစရ်ဖြစ်ခြင်း၊ မဖြစ်ခြင်းမှာ အလ္လာဟ်အရှင်မြတ်၏ အလိုတော်ကြောင့်သာ ဖြစ်ပေသည်။

(၃၁) လူအများကြား၌ သူခိုးအား သိရှိရန်အတွက် အာမိလ်(မန်းမှုတ်ဆရာ၊ ဂျာဒူပညာတတ်ကျွမ်းသူ)များအား မေးမြန်းလေ့ရှိကြသည်။ ၎င်းတို့ပြောသော သူခိုးဆိုသူအား အမှန်တကယ်သူခိုးဟု မှတ်ယူလေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ ၎င်းတို့၏ မည်သူ သူခိုးဟူသော ပြောဆိုချက်သည် သာသနာတော်အရ အထောက်အထားတစ်ခု မဖြစ်ရုံသာမက ဤသို့ မေးမြန်းခြင်းသည်ပင်လျှင် အပြစ်ဂိုနာဟ်ထိုက်ပေသည်။

**(သတိထားရမည်မှာ အလ္လာဟ်အရှင်မြတ်မှလွဲ၍ မည်သူမှ မသိနိုင်ပေ။)**

(၃၂) အချို့သူများသည် အိစ်စ်သိခါရာနှင့်ပတ်သက်၍ အမြင်မှားနေကြသည်။ အတိတ်၌ဖြစ်ခဲ့သော ကိစ္စများနှင့်ပတ်သက်၍ အိစ်စ်သိခါရာဖတ်ခြင်းဖြင့် သိနိုင်သည်ဟု မှတ်ယူနေကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ ဤကဲ့သို့ ယုံကြည်ချက်ဖြင့်ပြုလုပ်ခြင်းသည် မပိုင်ပေ။ အိစ်စ်သိခါရာ ဟူသည် လုပ်သင့်၊ မလုပ်သင့်နှင့်ပတ်သက်၍ အလ္လာဟ်အရှင်မြတ်ထံပါးမှ အကြံဉာဏ်တောင်းခံခြင်းသာ ဖြစ်ပေသည်။

(၃၃) များစွာသောသူတို့သည် သအ်ဝီးဇ်များနှင့်ပတ်သက်၍ ယုံကြည်ချက် လွန်ကဲနေကြ၏။ သအ်ဝီးဇ်လုပ်မှဖြစ်မည်၊ မလုပ်ဘဲနေ၍ မရ အစရှိသော စကားများကိုပင် ပြောတတ်ကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ **စင်စစ်သော်ကား အရှင်သခင်သည်သာ အရာခပ်သိမ်းကို တတ်စွမ်းနိုင်တော်မူပေသည်။(حسن العزيز ကျမ်း)**

# ဗလီဝတ်ကျောင်းတော်များနှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၃၄) ဗလီဝတ်ကျောင်းတော်များ၌ အထူးသဖြင့် ရမ်ဇာန်လ၏ ကုရ်အာန်ခသမ် သိမ်းသောည၌ အရင်ထက်ပို၍ မီးများထွန်းကြသည်။ မလိုအပ်သောမီးများပါထွန်း၍ လင်းထိန်နေအောင် ပြုလုပ်ကြသည်။ ဤသည်မှာ လုံးဝမှားယွင်း၏။ ဗလီသည် အေဗာဒသ်ပြုလုပ်ရာနေရာ ဖြစ်သည့်အတွက်ကြောင့် ပွဲလမ်းသဘင် ဆန်ဆန်ပြုလုပ်ခြင်းမှ ရှောင်ကြဉ်ရပေမည်။ (اصلاح الرسوم ကျမ်း)

(၃၅) အချို့သူတို့သည် ဗလီဝတ်ကျောင်းတော်များ၌ ထမင်းကျွေးခြင်း၊ မိမိအိမ်တွင် ဒအ်ဝသ်ရှိ၍ ဗလီမှ အခင်းများကိုယူသုံးခြင်း အစရှိသည်တို့ပြုလုပ်လေ့ရှိကြသည်။ ဤသို့ပြုလုပ်ခြင်းမှ ရှောင်ကြဉ်ရန် အလွန်အရေးကြီးပေသည်။ (اصلاح الرسوم ကျမ်း)

**မှတ်ချက်။ ။ အခကြေးငွေပေးဆောင်၍ ငှားရမ်းသောပစ္စည်းများကို သုံးစွဲခြင်းသည် အထက်ပါအမိန့်၌ မပါဝင်ပေ။**

(၃၆) အချို့သူတို့သည် မလိုအပ်ဘဲ ဗလီ၌ ဝုဇူပြုလုပ်ကြလေသည်။ ဤသည်မှာ ဗလီဝတ်ကျောင်းတော်အား မရိုသေမလေးစားခြင်းပင်ဖြစ်သည်။ (مقالات ကျမ်း)

(၃၇) များသောအားဖြင့် လူတချို့သည် ဗလီကိုမွမ်းမံပြင်ဆင်ရာ၌ မိမိကိုယ်ကိုမိမိ အရာရာလုပ်ပိုင်ခွင့်ရှိသူအဖြစ် မှတ်ယူကာ(သာသနာတော်၏) စည်းမျဉ်း၊ စည်းကမ်းများကို မထောက်ထားဘဲ လိုသည်ထက်ပို၍ အလှဆင်ကြသည်။ အပိုလုပ်ငန်းများကို လုပ်ကြသည်။ ထို့ပြင် သူတို့က ကျွန်ုပ်

တို့သည် မိမိတို့အိမ်အား ပြုလုပ်နေကြခြင်းမဟုတ် အလ္လာဟ့်အိမ်တော်အား အလှဆင်နေကြခြင်းဖြစ်သည်ဟူသော စောဒကဖြင့် ငါမှန်သည် ငါပြည့်စုံသည်ဟု ထင်နေကြသည်။ စင်စစ်မှာ ဤစောဒကသည် လုံး၀ မှားယွင်း၏။ ကိုယ်ပိုင်အိမ်အတွက်မဟုတ်ဘဲ အရှင့်အိမ်တော်အတွက် ဖြစ်ခြင်းကြောင့် (အပိုသုံးခြင်း၊ ဖြုန်းတီးခြင်း၊ အလှူငွေကောက်ခံခြင်း အစရှိသော အရာများအား) အထူးသတိထားရပေမည်။ ၎င်းနောက် ကြွားခြင်း၊ ဂုဏ်ပြိုင်ခြင်း (ကျွန်ုပ်တို့ ဗလီမှာ air-con မည်မျှရှိကြောင်း၊ ကြွေပြားမည်သို့ကပ်ထားကြောင်း အစရှိသော)တို့မှ ရှောင်ကြဉ်ရန် အလွန်အရေးကြီးလှသည်။ ( تاسيس البنيانကျမ်း)

## ဒုအာ၊ ဇိကိရ်တို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၃၈) အချို့သူတို့သည် ဝုဇူမရှိဘဲ ဒရူးဒ်ရှရီးဖ်ဖတ်ခြင်း မပိုင်ဟု မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံး၀ မှားယွင်း၏။ စင်စစ်တွင်မူ ဝုဇူမရှိဘဲ ဒရူးဒ်ရှရီးဖ်ဖတ်ခွင့်ရှိရုံမက ကုရ်အာန်ကျမ်းတော်မြတ်အား အလွတ်ဖတ်ရွတ်ခြင်းသည်ပင် ပိုင်ပေသည်။

(၃၉) မွတ်စ်လင်မ်အများစုသည် သာမန်ကိစ္စ၊ မိမိပြုလုပ်နေကျ အလုပ်အစရှိသည်တို့ကို "ငါလုပ်နိုင်တာပဲ"ဟူ၍ ဒုအာမလုပ်ဘဲ နေကြလေသည်။ ဤသည်မှာ လုံး၀မှားယွင်းပေသည်။ အဘယ်ကြောင့်ဆိုသော် မိမိတတ်နိုင်သော ကိစ္စဟုထင်ရသည်ဖြစ်စေ၊ မတတ်စွမ်းနိုင်သော ကိစ္စဟုထင်ရသည်ဖြစ်စေ ကိစ္စအ၀၀၌ အလ္လာဟ်အရှင်မြတ်ထံ ဒုအာဆုမွန်တောင်းခံရန် အရေးကြီးပေသည်။

(၄၀) လူအချို့သည် ဒုအာတောင်းသော်လည်း မပြည့်ဟုမှတ်ယူကာ ဒုအာလုံးဝမတောင်းကြတော့ပေ။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ အဘယ်ကြောင့်ဆိုသော် ဒုအာလက်ခံခြင်း၏ ပုံစံအမျိုးမျိုးရှိသည်။ ပမာဆိုရသော် မိမိတောင်းသော အရာတစ်ခုခုအစား အရှင်မြတ်သည် မိမိအပေါ်၌ ကျရောက်လာမည့် ဘေးဘယကို ဖယ်ရှားပေးခြင်းလည်းရှိပေသည်။

## ကွယ်လွန်ခါနီးအချိန်၊ ဂျနာဇဟ်နှင့် စပ်လျဉ်း၍ ခံယူချက်များ အကြောင်း

(၄၁) လူအများကြား၌ မိုင်ယသ်သေသူကို ရေချိုးထားသောနေရာ၌ (၃)ရက်တိုင် မီးခွက်ထွန်းရမည်ဟု ကျော်ကြားလေသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စရပ်ဖြစ်သည်။

(၄၂) အချို့သူတို့သည် မိမိ၏ကဖရ်၌ ကုရ်အာန်ထည့်ပေးရန် ဝဆီယသ်မှာတမ်းမှုပြုကြလေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၄၃) အချို့ဒေသများ၌ သေသူ၏မျက်နှာအား ကြည့်ခြင်းဖြင့် စဝါးဗ်ကုသိုလ်ရသည်ဟု မှတ်ယူထားကြသည်။ ဤသည်မှာ လုံးဝမှားယွင်း၏။

(၄၄) လူအချို့သည် သေသူအား ဒဖန်(မြှုပ်နှံမှု)လုပ်ပြီးနောက် စာရင်းအင်းစစ်မည့် ဖရစ်ရှ်သဟ်ကောင်းကင်တမန်လာရောက်သောအခါ သေသူထိုင်နိုင်လောက်သည်အထိ ကဖရ်အား နက်အောင် တူးရမည်ဟု ယူဆထားကြသည်။ ဤအတွေးသည် အသိဉာဏ်နည်းမှုနှင့် လမ်းမှားမှုသက်သက်သာဖြစ်သည်။

(၄၅) အချို့သောဒေသများ၌ သေသူ၏ဆွေမျိုးသားချင်းများအား စောင့်ဆိုင်းရင်း ဒဖန်လုပ်ခြင်းအား အလွန်အချိန်ဆွဲလိုက်ကြလေသည်။ ဤသည်မှာ သာသနာတော်နှင့် ဆန့်ကျင်ပေသည်။

(၄၆) မြို့ရွာဒေသအများစု၌ သေသူအား ဒဖန်လုပ်ချိန်၌ ခန္ဓာကိုယ်အား ပက်လက်လှန်၍ ခေါင်းတစ်ခုတည်းကိုသာ ကစ်ဗ်လဟ်ဘက်သို့ လှည့်လိုက်လေသည်။ ဤနည်းလမ်းမှာ မမှန်ကန်ပေ။ စင်စစ်သော်ကား တစ်ကိုယ်လုံးအား ကစ်ဗ်လာဟ်ဘက်သို့လှည့်ရပေမည်။ လွယ်ကူသောပုံစံမှာ ကဗရ်တွင်းတူးချိန်၌ပင် ကစ်ဗ်လဟ်ဘက်ကို အနည်းငယ်နှိမ့်တူး၍ အရှေ့ဘက်ကို အနည်းငယ်မြှင့်တူးရပေမည်။ သို့မှသာ အလိုအလျောက် ကစ်ဗ်လဟ်ဘက်သို့ တစ်ကိုယ်လုံးလှည့်ပြီးသား ဖြစ်သွားပေမည်။

(၄၇) များသောအားဖြင့် ဂျနဇာဟ်နမာဇ်ဖတ်ရန်အတွက် ရပ်ကွက်ရှိဗလီ၏ နမာဇ်ငါးကြိမ် (သို့မဟုတ်) ဂျုမုအဟ်နမာဇ်၏ အချိန်အား စောင့်ဆိုင်းလေ့ရှိကြပေသည်။ ဤသို့စောင့်ဆိုင်းခြင်းသည် မှားယွင်းသည်သာမက ရှရီအသ်နှင့်လည်း ဆန့်ကျင်ပေသည်။ (حسن العزيز ကျမ်း)

## ရိုဇာဥပုသ်စောင့်ထိန်းခြင်းနှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၄၈) အချို့သူတို့သည် နဖိလ်ရိုဇာတစ်ရက်တည်းထားခြင်းသည် မကောင်း၊ ဟိုမရောက် ဒီမရောက်ဖြစ်သည်ဟု ပြောလေ့ရှိကြသည်။ **(အလ္လာဟ် အရှင်မြတ်ထံ ခိုလှုံပါ၏။)** ဤသည်မှာ လုံး၀ လုံး၀ မှားယွင်းပေသည်။

(၄၉) အချို့သူတို့သည် နဖိလ်ရိုဇာအတွက် စဲဟ်ရီမစားရဟု မှတ်ယူနေကြသည်။ ဤသည်မှာ လုံးဝ မှားယွင်း၏။ ဖရ်ဇ် ရိုဇာဖြစ်စေ၊ နဖိလ် ရိုဇာ ဖြစ်စေ စဲဟ်ရီစားခြင်း၏ အမိန့်မှာ အတူတူပင်ဖြစ်သည်။ စဲဟ်ရီစားခြင်းသည် စွန္နသ်ဖြစ်သည်။

(၅၀) အချို့သူတို့သည် နဖိလ်ရိုဇာအား မဂ်ရစ်ဗ်နမာဇ်ပြီးမှ ဝါဖြေရမည်ဟု ယူဆထားကြသည်။ ဤသည်မှာ မှားယွင်းသောကိစ္စရပ်ပင်။

(၅၁) များစွာသောသူတို့သည် ရှောင်ဝါလ်လ၌ထားသော ရိုဇာ (၆) ရက်အား ဆက်တိုက်ထားမှ ပိုင်သည်ဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ ဆက်တိုက်၊ ရက်ခြား သို့မဟုတ် အဆင်ပြေသလို (ရှောင်ဝါလ်လအတွင်း ရိုဇာထားလိုက ထားနိုင်သည်။

## ဇကားသ်၊ ကုရ်ဘာနီ၊ အကီကဟ်တို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၅၂) များစွာသော သူတို့သည် ကုရ်ဘာနီအီးဒ်၌ ကုရ်ဘာနီသားမရမချင်းဘာမှ မစားဘဲနေခြင်းအား ရိုဇာဟု မှတ်ထင်နေကြသည်။ စင်စစ်သော်ကား ပထမဆုံး အစားအစာအဖြစ် အသားစားခြင်းမှာ မွတ်စ်သဟာဗ်သာ ဖြစ်သည်။ ရိုဇာ၏ နီယသ်လည်း မထားရပေ။

(၅၃) မွတ်စ်လင်မ်အများစုသည် အကီကဟ်အသားကို ကလေး၏ မိဘနှင့် အဖိုးအဖွားတို့ စားခြင်း မပိုင်ဟု မှတ်ယူထားကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၅၄) အချို့သောမွတ်စ်လင်မ်တို့သည် ဇကားသ်ပေးရာ၌ ဤအရာ ဇကားသ် ဖြစ်သည်ဟု ပြောလိုက်ရုံဖြင့် ဇကားသ်အထမြောက်သွားသည်ဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ အမှန်မှာ စိတ်ထဲမှဆန္ဒပြုရန်လည်း အလွန်အရေးကြီးလှသည်။

(၅၅) အချို့သောမွတ်စ်လင်မ်တို့သည် ဝတ်ထားသောရွှေအပေါ် ဇကားသ် မထိုက်ဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝမှားယွင်း၏။ ဝတ်ထားသောရွှေနှင့် သိမ်းဆည်းထားသောရွှေ၏ အမိန့်ပညတ်ချက်မှာ အတူတူပင်ဖြစ်သည်။ **(တစ်ဝတ်စာ၊ တစ်ဆင်စာ၌လည်း ဇကားသ်ထုတ်ရမည်။**

## နိကာဟ်နှင့် သွလားက်တို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၅၆) အချို့သောမွတ်စ်လင်မ်တို့သည် ဟိုင်းဇ်ဓမ္မတာရာသီသွေးဆင်းနေသောကာလ၌ နိကာဟ်မပိုင်ဟု မှတ်ယူထားကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ နိကာဟ်ပြုလုပ်ခွင့်ရှိပြီး ပေါင်းသင်းနေထိုင်ခြင်းသာ ခွင့်မရှိပေ။

(၅၇) မွတ်စ်လင်မ်အချို့သည် ခြိမ်းခြောက်ရန်နီယသ်ဖြင့် သို့မဟုတ် ဒေါသအလျောက် သွလားက်ပေးမိပါက သွလားက်မကျဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝ မှားယွင်းပေသည်။ **(သွလားက် ကျသွားပေမည်။)**

(၅၈) မွတ်စ်လင်မ်အများကြား၌ ခင်ပွန်းသည်သည် ပန်းသေပန်းညှိုးဖြစ်သွားပါက ဇနီးသည်နှင့် နိကာဟ်ပျက်သွားသည်သာမက ပရ်ဒါပါပြုရမည်ဟု ကျော်ကြား၏။ ဤသည်မှာ လုံးဝ မှားယွင်းသည်။

(၅၉) အချို့သူတို့သည် ဇနီးသည်ကိုယ်ဝန်ဆောင်ထားချိန် သွလားက်ပေးလျှင် သွလားက်မကျဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၆၀) အချို့သောမွတ်စ်လင်မ်တို့သည် စနောက်၍ သွလာက်ပေးပါက သွလားက်မကျဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝမှားယွင်းသည်။

## သားကောင်အား ဇဗဟ်ပြုလုပ်ခြင်းနှင့် စပ်လျဉ်း၍ ခံယူချက်များ အကြောင်း

(၆၁) များစွာသောမွတ်စ်လင်မ်တို့သည် အမျိုးသမီးဇဗဟ်ပြုလုပ်ထားသော အသားအား စားမပိုင်ဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ စင်စစ် အရွယ်မရောက်သေးသော်လည်း အသိဉာဏ်ပြည့်စုံသော မွတ်စ်လင်မ် အမျိုးသား၊ အမျိုးသမီး၏ ဇဗဟ်ပြုလုပ်ထားသော အသားပင်ဖြစ်စေ စားပိုင်သည်။

(၆၂) အချို့သောမွတ်စ်လင်မ်တို့သည် ဇဗဟ်ပြုလုပ်သူက မွတ်စ်လင်မ်ဖြစ်ပြီး သားကောင်အားကိုင်ပေးသူ မွတ်စ်လင်မ်မဟုတ်ပါက မပိုင်ဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၆၃) အချို့သောမွတ်စ်လင်မ်တို့သည် ဝလဒွတ်ဇေနာ (တရားတော်နှင့်အညီ ထိမ်းမြားခြင်းမရှိဘဲ မွေးသောသူ) ဇဗဟ်ပြုလုပ်ထားသော အသားအား စားမပိုင်ဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသည်။

# အရောင်းအဝယ်ပြုလုပ်ခြင်းနှင့် စပ်လျဉ်း၍ ခံယူချက်များ အကြောင်း

(၆၄) များစွာသော မွတ်စ်လင်မ်တို့သည် အရောင်းအဝယ်ကဏ္ဍဆိုင်ရာ အစ္စလာမ်သာသနာတော်၏ အမိန့်ပညတ်ချက်များနှင့် စပ်လျဉ်း၍ မသိရှိကြပေ။ ထို့ထက်သာပို၍ ပြောရပါမူ အချို့သူတို့သည် အစ္စလာမ်ဟူသည် နမာဇ်၊ ရိုဇာ၊ ဟဂ်ျလောက်ကိုသာ ပြောသည်ဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။(اشرف العلوم ကျမ်း)

**(ကိစ္စရပ်တိုင်းနှင့် စပ်လျဉ်း၍ အစ္စလာမ်သာသနာတော်၏ အမိန့်တော်များ ရှိပြီးသားဖြစ်သည်။ နီးစပ်ရာအာလင်မ်များထံ၌ မေးမြန်း၍ ကျင့်သုံးရပေပေမည်။)**

(၆၅) အချို့သောမွတ်စ်လင်မ်တို့သည် ပစ္စည်းဝယ်ယူရာ၌ ရောင်းသူခိုးလာသော ခိုးရာပါပစ္စည်း၊ အလစ်သုတ်လာသောပစ္စည်းများကို "ကိုယ်နဲ့မဆိုင် ကိုယ်ကတော့ပိုက်ဆံပေးပြီးဝယ်တာပဲ၊ ဘာလို့မပိုင်ရမှာလဲ"ဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝမှားယွင်းသည်။

(၆၆) အချို့မွတ်စ်လင်မ်တို့သည် လမ်းဦးတိုက်အိမ်အား အ မင်္ဂလာဟု မှတ်ယူ၍ အရောင်းအဝယ် မပြုလုပ်ဘဲနေကြသည်။ ဤသည်မှာ လုံးဝ မှားယွင်းသည်။

## ဒါရီ(မုတ်ဆိတ်)ထားခြင်းနှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၆၇) အချို့သောသူတို့သည် ဒါရီ(မုတ်ဆိတ်)အား လုံးဝမထားဘဲ ရိတ်ပစ်လိုက်ကြသည်။ သို့မဟုတ် လက်တစ်ဆုပ်စာ မပြည့်ခင် ဒါရီအား ညှပ်လိုက်ကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသည်။ စင်စစ် လက်တစ်ဆုပ်စာအပြည့်ဒါရီမထားခြင်းသည် မဇ်ဟဗ်ကြီး ၄ခုလုံး၌ တညီတညွတ်တည်း ဟရာမ်ဖြစ်ပေသည်။

(၆၈) အချို့သူတို့သည် ဒါရီထားဖို့ ကုရ်အာန်ရဲ့အမိန့်အာယသ်ပြပါဟု တောင်းကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ ဟဒီးဆ်၌ ဒါရီထားရန် ပေးထားသောအမိန့်များ အတည်ဖြစ်ပြီး ဖြစ်သည်။ ကုရ်အာန်ကျမ်းတော်မြတ်၌ ဟဒီးဆ်တော်များအား အမလ်လုပ်ရန် ညွှန်ကြားထားပြီးဖြစ်သည်။ ဤသို့ဆို လျှင် ဟဒီးဆ်၏ အမိန့်များအားလုံးသည် ကုရ်အာန်၌လည်းရှိသည်ဟု သက်ရောက်သွားပေသည်။ (تسہیل المواعظကျမ်း)

(၆၉) အချို့သူတို့သည် ဒါရီထားခြင်းသည် စွန္နသ်ဖြစ်သောကြောင့် ထားလည်းရသည်၊ မထားလည်းရသည်ဟု ထင်နေကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသောကိစ္စရပ်ဖြစ်ပေသည်။ စင်စစ် ဒါရီထားခြင်းသည် အလွန်အရေးကြီးသော ဝါဂျိဗ်ကိစ္စရပ်ဖြစ်သည်။ (تسہیل المواعظကျမ်း)

# စလာမ်နှုတ်ခွန်းဆက်သခြင်း၊ လက်ဆွဲနှုတ်ဆက်ခြင်းတို့နှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၇၀) အချို့သူတို့သည် စာရေးရာ၌ "အတ်စ္စလာမို့အလိုင်းကွန်းမ်" ဟု အပြည့်မရေးဘဲ "စလာမ် မေ့ မတ်စ်နူးန်"၊ "စလာမ်"စသည်ဖြင့် အတို ကောက် ရေးကြလေသည်။ ဤသို့သော စလာမ်များအား "ဝအလိုင်းကွမ်းမွတ် စ္စလာမ်"ဟု အပြည့်အဝ စလာမ်ပြန်ရန် အရေးမကြီးချေ။

(၇၁) အချို့သူတို့သည် "အတ်စ္စလာမို့အလိုင်းကွန်းမ်"ဟု စလာမ်ပြန်ချိန်၌ ရင်ဘတ်ပေါ် လက်တင်ခြင်း၊ ခေါင်းညွှတ်ခြင်းအား ပြုလုပ်လေ့ရှိကြသည်။ ဤသည်မှာ မှန်ကန်သော နည်းလမ်းမဟုတ်ပေ။ အကယ်၍ စလာမ်ပေးသူ သို့မဟုတ် စလာမ်ပြန်သူသည် အသံမကြားရလောက်သော အဝေးနေရာမှ ဖြစ်နေပါက နှုတ်လျှာမှ စလာမ်စာသားနှင့် အတူတကွ လက်ဖြင့် အရိပ်အမြွက်ပြပါက အပြစ်မရှိပေ။ ဤသို့ အခြေအနေ၌ စလာမ်ပြန်ရန် အရေးကြီးပေသည်။ စာသားအပြည့်အစုံဖြင့် စလာမ်ပြန်မည်ဆိုပါက စဝါးဗ် ပိုရမည်။

(၇၂) အချို့သူတို့သည် လက်ဆွဲနှုတ်ဆက်ပြီးနောက် ရင်ဘတ်ပေါ် လက်တင်လေ့ရှိကြသည်။ ဤသို့ပြုလုပ်ရန် မလိုအပ်ချေ။

(၇၃) အချို့သူတို့သည် အီးဒ်နမာဇ်ပြီးနောက် လက်ဆွဲနှုတ်ဆက်ခြင်းနှင့် ရင်ချင်းအပ်နှုတ်ဆက်ခြင်းအား အရေးကြီးသည်ဟု မှတ်ယူထားကြသည်။ ဤသည်မှာ မိမိ၏ စိတ်အလိုကို ဦးစားပေးသော ကိစ္စရပ်သာ ဖြစ်သည်။

(၇၄) လူအများစုသည် ကျင်ကြီးကျင်ငယ်စွန့်ပြီးနောက် သန့်ရှင်းမှုမပြုဘဲ စလာမ်မပေးရ၊ စလာမ်မပြန်ရဟု ထင်မှတ်နေကြပေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ စလာမ်ပေးခြင်း၊ စလာမ်ပြန်ခြင်း နှစ်ခုစလုံးပိုင်ပေသည်။

(၇၅) အချို့မွတ်စ်လင်မ်တို့သည် နှုတ်ဆက်ခွဲခွာချိန်၌ "အတ်စ္စလာမို့ အလိုင်းကွန်းမ်" ဟု မပြောပဲ "ခိုဒါဟာဖိဇ်၊ See You, Good Luck" စသည်ဖြင့် ပြောလေ့ရှိကြသည်။ သာသနာတော်၏ သွန်သင်မှုမှာ တွေ့ဆုံချိန်၊ ခွဲခွာချိန်၌ စလာမ်ဆိုခြင်းဖြစ်ရာ အထက်ပါစကားလုံးများဖြင့် နှုတ်ဆက်ခြင်းသည် သာသနာတော်၏ အမိန့်ပညတ်ချက်များအား ပြောင်းလဲရာရောက်ခြင်း ကြောင့် ရှောင်ကြဉ်ရပေမည်။

(၇၆) မိုလာကာသ် (တစ်ဦးနှင့် တစ်ဦးတွေ့ဆုံလက်ဆွဲနှုတ်ဆက်ရာ)၌ အမျိုးသားများကဲ့သို့ အမျိုးသမီးများလည်း အချင်းချင်း လက်ဆွဲနှုတ်ဆက်ခြင်း၊ ရင်ချင်းအပ်ခြင်း စွန္နသ် ဖြစ်ပေသည်။

## စားခြင်း၊ သောက်ခြင်းတို့နှင့်စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၇၇) ဒအ်ဝတ်အိမ်မှ မစားဘဲပြန်ခြင်းသည် မပိုင်ဟု ကျော်ကြား၏။ ဤသည်မှာ လုံးဝ အခြေအမြစ်မရှိသော စကားဖြစ်ပေသည်။

(၇၈) အချို့အမျိုးသမီးများသည် ခင်ပွန်းထက်အရင်စော၍ စားသောက်ခြင်းအား မကောင်းသောလုပ်ရပ်ဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စဖြစ်ပေသည်။

**(ရှိသေမှုကြောင့် အရင်မစားခြင်းမှာ သက်သက်ဖြစ်သည်။ အရင်စားလိုက်ပါကလည်း မည်သို့မျှ ကိစ္စမရှိပေ။)**

(၇၉) လူအများကြား၌ ဆားပြုတ်ကျခြင်း၊ သွန်ခြင်းတို့ကြောင့် ကေယာမသ်နေ့၌ မျက်တောင်ဖြင့် ပြန်ကောက်ရမည်ဟု ကျော်ကြားပေသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စရပ် ဖြစ်ပေသည်။

(၈၀) လူအများကြား၌ အဆွရ်နမာဇ်နှင့် မဂ်ရိဗ်နမာဇ်၏ကြား အချိန်၌ အစားအသောက်စားသောက်ခြင်းသည် မကောင်းသောလုပ်ရပ်ဖြစ်သည်ဟု ကျော်ကြားလေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၈၁) အချို့သူတို့သည် ထမင်းလုတ်တစ်လုတ်ချင်းစီ၏ အစ၌ **ဗစ္စမစ်လ္လာဟ်** ဆို၍ အဆုံး၌ **အလ်ဟမ်ဒိုလစ်လ္လာဟ်**ဆိုခြင်းသည် အလွန်ကောင်းသော လုပ်ရပ်ဖြစ်သည်ဟု မှတ်ယူထားကြလေသည်။ သို့သော် ကျွန်ုပ် (ဟကီမွလ်အွမ္မသ် မောင်လာနာအရှ်ရဖ် အလီ ထာနဝီ)ကမူ ဟဒီးစ်တော်များ၌လာရှိသော အစာ စ မစားမီ ပထမဆုံး၌ **ဗစ္စမစ်လ္လာဟ်**ဆို၍ အစာစားပြီး အဆုံး၌ **အလ်ဟမ်ဒိုလစ်လ္လာဟ်**ဆိုခြင်းအား ပိုကောင်းသည်ဟု မှတ်ယူထားပေသည်။

(၈၂) အချို့သူတို့သည် သောက်ကြွင်းရေအား မတ်တတ်ရပ်၍ သောက်ခြင်းဖြင့် စဝါးဗ်ရသည်ဟု ထင်မှတ်နေကြသည်။ ဤအရာနှင့်ပတ်သက်၍ သာသနာတော်၌ ခိုင်လုံသော အမိန့်တစ်စုံတစ်ရာ မတွေ့ရပေ။ **(ဇမ်ဇမ်ရေနှင့် ဝုဇူမှကျန်သောရေကို မတ်တတ်ရပ်၍ သောက်ခြင်းသည်သာ မွတ်စ်သဟဗ် ဖြစ်၍ အခြားသောရေများအား မလိုအပ်ဘဲ မတ်တတ်ရပ်၍ သောက်ခြင်းသည် မက္ကရူဟ်သန်ဇီဟီ ဖြစ်ပေသည်။)**

(دار الافتاء ـجامعہ اسلامیہ علامہ محمد یوسف بنوری ٹاؤن –14001200239)

(၈၃) အချို့သောမွတ်စ်လင်မ်များသည် ဟင်းခပ်ရာ၌ လက်ဆုံသွားပါက ဧည့်သည်လာတတ်သည်ဟု မှတ်ယူကြလေသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စရပ်ဖြစ်သည်။

✶ ထမင်းစားနေချိန် စလာမ်ပေးခြင်း၊ ယူခြင်း မပိုင်ဟု ထင်မှတ်နေကြသည်။ ဤသည် မှားယွင်းသောအရာဖြစ်သည်။ ပါးစပ်ပလုတ်ပလောင်းဖြစ်နေ၍ စလာမ်ပေးရ၊ ယူရ ခက်ခဲသည့် အချိန်မျိုးတွင် **သီးသွားမည်စိုး၍** မပေး/ မယူဘဲ နေလိုကနေနိုင်သည်။

## အတိတ်နိမိတ်ကောက်ခြင်းနှင့် စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၈၄) အချို့သူတို့သည် လက်ဖဝါးယားပါက ပိုက်ဆံဝင်တတ်သည် ဟု မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စဖြစ်သည်။

(၈၅) အချို့သူတို့သည် ခြေဖဝါးယားပါက အပြင်သွားရတတ်သည်ဟု ထင်မှတ်နေကြပေသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော အတွေးဖြစ်သည်။

(၈၆) အချို့မွတ်စ်လင်မ်များသည် မည်သည့်နေ့၌(သို့မဟုတ်) မည်သည့်ရက်၌ ခရီးထွက်ခြင်းဖြင့် ဘေးဒုက္ခရောက်တတ်သည်၊ မကောင်းပေ စသည်ဖြင့် မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၈၇) အချို့သောမွတ်စ်လင်မ်တို့သည် နှုတ်ခမ်းကိုက်မိပါက (သို့မဟုတ်) ခလုတ်တိုက်မိပါက မိမိ၏အတင်းအား အခြားသူတစ်ယောက်ယောက်ပြော

နေကြသည်ဟု ယူဆထားကြသည်။ ဤသည်မှာ လုံးဝအခြေအမြစ်မရှိသော ကိစ္စဖြစ်ပေသည်။

(၈၈) မွတ်စ်လင်မ်တို့သည် မနက်စောစောစီးစီး တစ်ခုခုအဆင်မပြေဖြစ်ခြင်း (ဥပမာ– အဆဲခံရခြင်း၊ ချော်လဲခြင်း၊ ဒဏ်ရာတစ်ခုခု ရသွားခြင်း)ဖြင့် တစ်နေ့ကုန် မည်သည့်ကိစ္စမှ အောင်မြင်တော့မည် မဟုတ်ဟု မှတ်ယူထားကြပေသည်။ ဤသည်မှာ လုံးဝအခြေအမြစ် မရှိသည်သာမက ရှရီအသ်နှင့်လည်း လုံးလုံးလျားလျား ဆန့်ကျင်နေပေသည်။

## အထွေထွေကိစ္စရပ်များနှင့်စပ်လျဉ်း၍ ခံယူချက်များအကြောင်း

(၈၉) အချို့သူတို့သည် ချွတ်ထားသောဖိနပ်များ မှောက်လျက်ဖြစ်နေပါက လုံးဝမကောင်းပေ။ အလုပ်များ အဆင်မပြေဖြစ်တတ်သည်ဟု မှတ်ယူ၍ ထိုဖိနပ်အား အမြန်ဆုံးအတည့် ပြန်လုပ်ကြလေသည်။ ဤကဲ့သို့ ယုံကြည်ခြင်းမှာ လုံးဝမှားယွင်းပေသည်။ **အရာတစ်ခု၏ ပုံစံအမှန်အတိုင်းထားခြင်းမှာ လူ့ကျင့်ဝတ်အရသာ ဖြစ်သည်။**

(၉၀) ဟရာမ်ပစ္စည်း သို့မဟုတ် ဟရာမ်ပိုက်ဆံဟု သေချာသော (ဥပမာ– လာဘ်ယူခြင်း၊ အတိုး) စသည်ဖြင့် အရာများအား ယူချိန်၌ ဗိစ္စမစ်လ္လာဟ်ဆိုခြင်းသည် ကုဖ်ရ် ဖြစ်၏။ ဟရာမ်နှင့် ဟလာလ် ရောနေသော အရာများအား အပေးအယူလုပ်ချိန်၌လည်း ဗိစ္စမစ်လ္လာဟ်ဆိုခြင်းသည်လည်း မကောင်းသော လုပ်ရပ်ဖြစ်ပေသည်။ အထူးသတိထား ရှောင်ကြဉ်ရပေမည်။ (تعميم التعليمကျမ်း)

(၉၁) အချို့မသိနားမလည်သူတို့သည် ဟရာမ်ပိုက်ဆံဖြင့် ဆွဒကဟ်၊ ခိုင်ရားသ် စသည်ဖြင့် ငွေကြေးအနည်းအငယ်အား လှူဒါန်းလိုက်ပါက ကျန်သောပိုက်ဆံသည် သန့်သွားသည်၊ ဟလာလ်ဖြစ်သွားသည်ဟု ထင်မှတ်ထားကြသည်။ ဤသည်မှာ လုံးဝမှားယွင်းသော ကိစ္စရပ်ဖြစ်ပေသည်။ (تعميم التعليمကျမ်း)

(၉၂) အချို့သူတို့သည် ည၌ လက်သည်းမညှပ်ရ၊ တံမြက်စည်း မလှည်းရဟု မှတ်ယူထားကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ လိုအပ်ပါက ညအချိန်၌ လက်သည်းညှပ်ခြင်း၊ ဆံပင်ညှပ်ခြင်းနှင့် တံမြက်စည်းလှည်းခြင်း ပိုင်ပေသည်။ ( دار الافتاء، 1431/4-308=374 فتوى(ب دار العلوم ديوبند)

(၉၃) များစွာသောသူတို့သည် ပုရွက်ဆိတ်အား ဒီလောက် အကောင်သေးလေး ဘာမှမဖြစ်ပါဘူးဟူသော အတွေးဖြင့် အကြောင်းမဲ့သတ်ဖြတ်ကြလေသည်။ ဤသည်မှာ လုံးဝမပြုအပ်ပေ။ အဘယ်ကြောင့်ဆိုသော် ပုရွက်ဆိတ်သည် အလ္လာဟ်အရှင်မြတ်၏ သတ်စ်ဗီးဟ်တော်အား ရွတ်ဖတ်လေ့ရှိ၏။ ပုရွက်ဆိတ်ကြောင့် မိမိဒုက္ခရောက်မည်ကိုစိုးရိမ်ရပါက သတ်ပိုင်ခွင့်ရှိသည်။ ပုရွက်ဆိတ်ကို သတ်ရာ၌လည်း အတတ်နိုင်ဆုံး သက်တောင့်သက်သာ သေစေနိုင်သော ပုံစံသတ်ရမည်။ မီးရှို့၍ သတ်ခြင်း၊ ရေလောင်း၍ သတ်ခြင်းသည် မက္ကရူဟ်ဖြစ်၏။ (الفتاوى الهندية)

(၉၄) အချို့သောသူတို့သည် မီးခွက် (သို့မဟုတ်) ဖယောင်းတိုင်အား ပါးစပ်ဖြင့်မှုတ်၍ ငြိမ်းခြင်းအား အ မင်္ဂလာဟု မှတ်ယူကြလေသည်။ စင်စစ်သော်ကား ဤသည်မှာ သာသနာတော်၌ လုံးဝအခြေအမြစ်မရှိသော ကိစ္စဖြစ်သည်။

(၉၅) အချို့မွတ်စ်လင်မ်တို့သည် အမျိုးသမီး၏ ဘယ်ဘက်လက်တွင် မှဲ့ (သို့မဟုတ်) အမှတ်တစ်စုံတစ်ရာရှိခြင်းသည် လက်ဆော့တတ်ခြင်း (ခိုးတတ်ခြင်း)၏ အမှတ်အသားဖြစ်သည်ဟု မှတ်ယူလေ့ရှိကြသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၉၆) အချို့မွတ်စ်လင်မ်တို့သည် မနက် စောစောစီးစီး မြွေ၊ ဝက် စသည့် တိရစ္ဆာန်များ၏ အမည်ပါသော စကားများပြောခြင်းအား အ မင်္ဂလာဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။

(၉၇) အချို့သောသူတို့သည် ကလေးငယ်များ လဲလျောင်းလျက် ခြေထောက်လှုပ်ပါက တားမြစ်လေ့ရှိကြပေသည်။ **စင်စစ်သော်ကား ဤသည်မှာ အကျင့်မဖြစ်စေရန် အသိ သတိပေးခြင်းသာ ဖြစ်ပေသည်။**

(၉၈) မွတ်စ်လင်မ်အများစုသည် အဆွေရ်နမာဇ်အပြီး တံမြက်စည်းလှည်း ခြင်းအား မကောင်းသောလုပ်ရပ်ဟု ထင်နေကြပေသည်။ ဤသည်မှာ လုံးဝ မှားယွင်းသည်။

(၉၉) လူအများကြား၌ ရှိုင်သွာန်အား ဖရိရှ်သဟ်များ၏ ဆရာဟူသော ဂုဏ်ပုဒ်ဖြင့် ခေါ်ဝေါ်ခြင်းမှာ ရေပန်းစားနေပေသည်။ ကျွန်ုပ် (ဟာကီမွလ် အွမ္မသ်)၏လေ့လာမှုအရ ဤသည်နှင့် စပ်လျဉ်းသည့် မည်သည့်ဆင့်ပြန်ချက် မျှ မတွေ့ရပေ။ (مجالس حكيم الامت)

(၁၀၀) အချို့သူတို့သည် တစ်စုံတစ်ယောက်၏ လှည်းနေသော တံမြက်စည်းဖြင့် မိမိအားထိမိသွားပါက အ မင်္ဂလာဟု မှတ်ယူထားကြလေသည်။ ဤသည်မှာ လုံးဝမှားယွင်းပေသည်။ တံမြက်စည်းလှည်းသူကိုယ်တိုင် သူများကို မထိမိစေရန် အထူး သတိထားရမည့်ကိစ္စရပ်ပင်ဖြစ်သည်။

**အလ္လာဟ်အရှင်မြတ် လက်ခံတော်မူပါစေသတည်း။ အာမီးန်**

# ကောင်းဆုမွန်

ဗုဒ္ဓဘာသာရေး
သောကပိုက်တွေး
ကောင်းကျိုးမျှော်တွေး
ဤကျမ်းငယ်လေး ပြုစုမိ၏။
သျှင်မြတ်အလ္လာဟ်
လက်ခံကျေနပ်
ဖြစ်ထွန်းအကျိုး ဗုဒ္ဓဘာသာဖို့
ပေးသနားရန် ကျွန်ုပ်လှူသား
ကျိုးနွံစွာဖြင့် ဆုမွန်ပြုလျက် . . . .